ပုံစံ (၅-ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**
**အတည်ပြုမိန့်**

အတည်ပြုမိန့်အမှတ် ကရန- ၀၀၉ /၂၀၁၉ ၂၀၁၉ ခုနှစ် ဇွန်လ ၂၁ ရက်

ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၂၅ ပုဒ်မခွဲ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးသိန်းဦး
(၂) နိုင်ငံသား မြန်မာ
(၃) နေရပ်လိပ်စာ ဘဲဝေးလမ်း၊ အမှတ် (၃) ရပ်ကွက်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ ကရင်ပြည်နယ်။
(၄) ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ -
(၅) ဖွဲ့စည်းရာအရပ် -
(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ဟိုတယ်တည်ဆောက်လုပ်ကိုင်ခြင်း လုပ်ငန်း
(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) အမှတ် (၄၆၈/၄၆၉)၊ မြို့မတောကွင်း၊ ဦးပိုင်အမှတ် (၃၅/၂)၊ မြို့ပတ်လမ်း၊ အမှတ် (၃) ရပ်ကွက်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ ကရင်ပြည်နယ်။
(၈) နိုင်ငံခြားမတည်ငွေရင်း ပမာဏ -
(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -
(၁၀) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၁,၄၀၀ သန်း (စုစုပေါင်း ကျပ် တစ်ထောင့် လေးရာသန်း)
(၁၁) တည်ဆောက်မှု/ ပြင်ဆင်မှုကာလ ၆ လ
(၁၂) အတည်ပြုမိန့်သက်တမ်း -
(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု
(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်

(နန်းခင်ထွေးမြင့်)
ဥက္ကဋ္ဌ

Form (5-B)

# THE REPUBLIC OF THE UNION OF MYANMAR

## Kayin State Investment Committee

## ENDORSEMENT

Endorsement No. 009/ 2019 Date 21st June 2019

This endorsement is issued by the Myanmar Investment Commission according to the section 25 (d) of the Myanmar Investment Law–

(1) Name of Investor U THEIN OO

(2) Citizenship MYANMAR

(3) Residence Address BELTWAY STREET, NO. (3) QUARTER, KYAR INN SEIK GYI TOWNSHIP, KAYIN STATE, MYANMAR.

(4) Name and Address of Principal Organization –

(5) Place of Incorporation –

(6) Type of business HOTEL SERVICES

(7) Place(s) of investment Project PLOT NO. (468/469), HOLDING NO. (35/2), MYOE PART LANE, NO. (3) QUARTER, KYARIN SEIK KYI TOWNSHIP, KAYIN STATE, MYANMAR.

(8) Amount of Foreign Capital –

(9) Period for Foreign Capital to be brought in –

(10) Total Amount of Capital (Kyat) KYAT 1,400 MILLION

(11) Construction/ Preparation Period 6 (SIX) MONTHS

(12) Validity of Endorsement –

(13) Form of Investment WHOLLY MYANMAR OWNED

(14) Name of Company Incorporated in Myanmar AUNG PAING MOE MYAE COMPANY LIMITED

KYNIC

Kayin State Investment Committee

(Nan Khin Htwe Myint)

Chairman

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

သုခနုလမ်း၊ ပြည်နယ်အစိုးရအဖွဲ့ရုံး၊ ဘားအံမြို့၊ ကရင်ပြည်နယ်။


ဖုန်း -၀၅၈-၂၂၇၅၀

ဖက်(စ်) -၀၅၈-၂၂၇၄၉


စာအမှတ်၊ ကရန / ရနမ-၂ / ၂၀၁၉ (၀၁၃၃)

ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇွန် လ ၂၁ ရက်

အကြောင်းအရာ။ **Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) ၏ ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်း အတည်ပြု လျှောက်ထားလွှာအပေါ် ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက် ။ Aung Paing Moe Myae Company Limited ၏ ၂၀-၅-၂၀၁၈ ရက်စွဲပါ တင်ပြစာ

၁။ Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) မှ အမှတ် (၄၆၈/၄၆၉)၊ မြို့မတောကွင်း၊ ဦးပိုင်အမှတ် (၃၅/၂)၊ မြို့ပတ်လမ်း၊ အမှတ် (၃) ရပ်ကွက်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ ကရင်ပြည်နယ်ရှိ မြေဧရိယာ (၁.၅၁) ဧကတွင် ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းအပေါ် ၂၀၁၉ ခုနှစ် ဇွန်လ ၁၃ ရက်နေ့တွင် ကျင်းပ ပြုလုပ်သော ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၅/၂၀၁၉) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) ၏ ဟိုတယ် တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းအား ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့် အမှတ်၊ ကရန-၀၀၉ /၂၀၁၉ ကို ထုတ်ပေးလိုက်သည်။

၂။ Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာ ဆောင်ရွက်ရမည်-

(က) Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၈)၊ ပုဒ်မ

၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်၊ သက်သာခွင့်များကို ပြဌာန်းထားသည့်အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး** ရည်မှန်းချက်များ အဖြစ်ထားရှိ အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့် သဘာဝပတ်ဝန်း ကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ ပြဌာန်း ထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လုပ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး စနစ်များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်သွားရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

(စ) Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်း ကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(ဆ) Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ် ဘဏ္ဍာရေးနှစ်

ကုန်ဆုံး ပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ် အချက်အလက်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်) ဆိုဒ် သို့ တင်ပြရမည်။

(ဇ) Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့်တင်ပြရမည်။

၃။ Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ (ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန်လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ Aung Paing Moe Myae Company Limited (အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်) သည် အတည်ပြု လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရ ဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် စာချုပ်ချုပ်ဆိုသည် ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ (၅) စုံစီ အား ကော်မတီသို့ ပေးပို့ရမည်။

(နန်းခင်ထွေးမြင့်)
ဥက္ကဋ္ဌ

**Aung Paing Moe Myae Company Limited**

**(အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက်)**

**ဖြန့်ဝေခြင်း-**

ပြည်ထဲရေးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန

ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ကရင်ပြည်နယ်အစိုးရအဖွဲ့ရုံး

ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ခေတ္တညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ကရင်ပြည်နယ်ဦးစီးမှူးရုံး၊ ဘားအံမြို့

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီ

စာအမှတ်၊ ၂၂ / ၅၃ / ၂၂ (၀၁၂ /၂၀၁၉)

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇွန်လ ၁၀ ရက်

## ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက် (Aung Paing Moe Myae Co., Ltd.) မှ အမှတ် (၄၆၈/၄၆၉)၊ မြို့မတောကွင်း၊ ဦးပိုင်အမှတ် (၃၅/၂)၊ မြို့ပတ်လမ်း၊ အမှတ် (၃) ရပ်ကွက်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ ကရင်ပြည်နယ်ရှိမြေ (၁.၅၁) ဧကတွင် ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုမိန့် ထုတ်ပေးပါရန် တင်ပြလာခြင်းကိစ္စ

၁။ ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက် (Aung Paing Moe Myae Co., Ltd.) မှ အမှတ် (၄၆၈/၄၆၉)၊ မြို့မတောကွင်း၊ ဦးပိုင်အမှတ် (၃၅/၂)၊ မြို့ပတ်လမ်း၊ အမှတ် (၃) ရပ်ကွက်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ ကရင်ပြည်နယ်ရှိ မြေဧရိယာ (၁.၅၁) ဧကရှိ မြေပေါ်တွင် အလျား (၄၂) ပေ၊ အနံ (၆၀) ပေ၊ အမြင့် (၃၀) ပေရှိ RC (၃) ထပ်၊ အိပ်ခန်းပေါင်း (၂၀) ခန်းပါ ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားအဖြစ် ဦးသိန်းဦးမှ မြေစာရင်းပုံစံ ၁၀၅၊ ၁၀၆ နှင့် မြေငှားစာချုပ် (မိတ္တူ) တို့အား ပူးတွဲ တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ (ကျပ် ၁,၄၀၀ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | စုစုပေါင်း (ကျပ်) | စုစုပေါင်း (US$ ) |
|---|---|---|
| ငွေသား | ၈၁,၈၀၇,၀၀၀ | - |
| ဟိုတယ်သုံးပစ္စည်းတန်ဖိုး | ၈၅,၉၉၃,၀၀၀ | - |
| အဆောက်အဦးတန်ဖိုး | ၈၀၀,၀၀၀,၀၀၀ | - |
| စက်ပစ္စည်းတန်ဖိုး | ၉၂,၀၀၀,၀၀၀ | - |
| မြေတန်ဖိုး | ၃၄၀,၂၀၀,၀၀၀ | - |
| **စုစုပေါင်း** | **၁၄၀၀,၀၀၀,၀၀၀** | - |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၃၃ ဦး ခန့်ထားပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်၍ ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။

၅။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားခဲ့ပါသည်-

(က) ကရင်ပြည်နယ် အစိုးရအဖွဲ့ အနေဖြင့် ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) ပြည်နယ် ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားပြန်ကြားခဲ့ပါသည်-

(၁) အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်မည့် ကုမ္ပဏီသည် ဟိုတယ်လုပ်ငန်း လိုင်စင် လျှောက်ထားမှုအပေါ် ကရင်ပြည်နယ်အစိုးရအဖွဲ့၏ (၁၄-၃-၂၀၁၉) ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေး အမှတ်စဉ် (၁၀/၂၀၁၉) ဆုံးဖြတ်ချက် အပိုဒ် (၁) အရ ယာယီ ဟိုတယ်လုပ်ငန်းလိုင်စင် ထုတ်ပေးထားပါသည်။

(၂) ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီအား ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန၊ မြန်မာနိုင်ငံခရီးသွားလုပ်ငန်း ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများကို လိုက်နာဆောင်ရွက်ရန် ဝန်ခံကတိပြု လက်မှတ်များ ရယူထားပါသည်။

(၃) အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း။ **နောက်ဆက်တွဲ-ခ**

(ဂ) ပြည်နယ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားပြန်ကြားခဲ့ပါသည်-

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးဆိုင်ရာ ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း ဆိုင်ရာအချက် အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေး ဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (Corpotate Social Responsibility-CSR) အတွက် နှစ်စဉ် အမြတ်ငွေ၏ (၂%) ကို ရန်ပုံငွေအဖြစ် အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ် များကို တိတိကျကျ လိုက်နာအကောင်ထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် လုပ်ငန်းဆောင်ရွက်မည့်

အစီအစဉ်၊ စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်း အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်းပါ အချက်အလက်များ နှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(၄) ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာ ဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(၅) အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အထက်ဖော်ပြပါအချက်များအား တိကျစွာ လိုက်နာ ဆောင်ရွက်မည်ဆိုပါက ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း။ **နောက်ဆက်တွဲ-ဂ**

(ဃ) ပြည်နယ်စည်ပင်သာယာရေးအဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ စည်ပင် သာယာရေးအဖွဲ့သို့ လုပ်ထုံး လုပ်နည်းနှင့်အညီ တင်ပြခွင့်ပြုချက်များ ရယူ ဆောင်ရွက်ပြီး ဖြစ်ပါသဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ -ဃ**

၆။ ငွေကြေးအထောက်အထားအဖြစ် ဒါရိုက်တာအဖွဲ့ဝင်မှ ဦးသိန်းဦး၊ ဒေါ်မိုးမိုးဆွေ အမည်ဖြင့် (၁၅-၃-၂၀၁၉) ရက်စွဲအရ Global Treasure Bank Ltd (Mawlamyaing (2) Branch) တွင် ငွေစာရင်းအမှတ် (၀၅၇၁၁၂၀၀၀၀၇၅၀) ကျပ် ၂၃၆၅၀၅/၁၆ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၃၆ အရ အဆိုပြုလုပ်ငန်းသည် ကော်မရှင်၏ ခွင့်ပြုမိန့် ရယူဆောင်ရွက်ရမည့် စာရင်းတွင်ပါဝင်ခြင်း မရှိပါကြောင်း၊ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်ကြောင်း စိစစ်ရပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့်

ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းစာရင်းတွင် ပါဝင်သောကြောင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၇) နှစ် ရရှိခံစားနိုင်မည် ဖြစ်ပါကြောင်း ။

(ဂ) ဖွံ့ဖြိုးတိုးတက်မှု ဇုန်-၁ တွင် ပါဝင်သည့်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် **၇ နှစ်** လျှောက်ထားနိုင်ပါသည်။

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၅၀ (က) အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံသူများ မိမိပိုင်မြေတွင် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ မြေငှား သက်တမ်း လုပ်ငန်းသက်တမ်း သတ်မှတ်ရန်မလိုပါ။

(င) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ နိုင်ငံတော်ကသာ ဆောင်ရွက်ခွင့်ရှိသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းစာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်း။

(စ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၅၀/၂၀၁၄ အရ အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သက်သာခွင့်မပေးသော လုပ်ငန်းများ၊ ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သက်သာခွင့် မပေးဘဲ အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်ပေးမည့် လုပ်ငန်းစာရင်းတွင်ပါဝင်ခြင်း မရှိပါကြောင်း။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက် (Aung Paing Moe Myae Co., Ltd.) မှ ဟိုတယ် တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာ တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(နိုင်ဝင်းတိုး ၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

လျှို့ဝှက်

နောက်ဆက်တွဲ (က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ပြည်နယ်အစိုးရအဖွဲ့ရုံး**
**ကရင်ပြည်နယ်**

စာအမှတ်၊ ၂၀၀ / ၇ - ၂၈ / ဦး ၆ ( ၆၀၄ )

ရက် စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဇွန် လ ၄ ရက်

သို့

အတွင်းရေးမှူး
ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ဘားအံမြို့

KYNIC-079
5.6.19

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၃-၅-၂၀၁၉) ရက်စွဲပါ စာအမှတ်၊ ၂၂ / ၅၃ / ၂၀ (၀၀၉၇/၂၀၁၉)

အောင်ပိုင်မိုးမြေကုမ္ပဏီလီမိတက်(Aung Paing Moe Myae Co.,Ltd)မှ ကြာအင်းဆိပ်ကြီးမြို့၊ အမှတ်(၃)ရပ်ကွက်၊ မြို့မတောကွင်း၊ ဦးပိုင်အမှတ်(၃၅/၂)၊ မြို့ပတ်လမ်း၊ အမှတ်(၄၆၈/၄၆၉)ရှိ မြေဧရိယာ(၁.၅၁)ဧကပေါ်တွင် အလျား(၄၂)ပေ၊ အနံ(၆၀)ပေ၊ အမြင့်(၃၀)ပေရှိ RC (၃)ထပ်၊ အိပ်ခန်းပေါင်း(၂၀)ခန်းပါ ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍ (၂၉-၅-၂၀၁၉) ရက်နေ့တွင် ကျင်းပပြုလုပ်သော ကရင်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ်(၂၀/၂၀၁၉) ဆုံးဖြတ်ချက် အပိုဒ်(၃)အရ **ကန့်ကွက်ရန်မရှိကြောင်း** အကြောင်းကြားပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
( ကျော်စိုး ၊ အတွင်းရေးမှူး )

မိတ္တူကို
ပြည်နယ်စီမံကိန်း၊ ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာန၊ ဘားအံမြို့
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ကော့ကရိတ်မြို့
အောင်ပိုင်မိုးမြေကုမ္ပဏီလီမိတက်(Aung Paing Moe Myae Co.,Ltd)
မျှော / လက်ခံ

Su 7 right(20^2019EC)\Pg2

လျှို့ဝှက်

နောက်ဆက်တွဲ (ခ)

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဘားအံရုံးခွဲ
စာအမှတ်၊ က - ဘအ/ ၂၀၁၉( ၃၁၁ )
ရက်စွဲ၊၂၀၁၉ခုနှစ်၊ မေ လ (၂၄) ရက်

သို့
ဥက္ကဋ္ဌ
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ဘားအံမြို့

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုအပေါ်သဘောထားပြန်ကြားပေးပါရန်ကိစ္စ**

ရည် ညွှန်း ချက်။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏(၂၃-၅-၂၀၁၉)ရက်စွဲပါစာအမှတ်၊ ၂၂/၅၃/၂၂(၀၀၉၉/၂၀၁၉)

၁။ ရည်ညွှန်းပါစာဖြင့် အောင်ပိုင်မိုးမြေကုမ္ပဏီလီမိတက်(Aung Paing Moe Myae Co.,Ltd) မှ အမှတ်(၄၆၈/၄၆၉)၊ မြို့မတောကွင်း၊ ဦးပိုင်အမှတ်(၃၅/၂)၊ မြို့ပတ်လမ်း၊ အမှတ်(၃)ရပ်ကွက်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ ကရင်ပြည်နယ် မြေဧရိယာ(၁.၅၁)ဧကရှိမြေပေါ်တွင် အလျား(၄၂)ပေ×အနံ(၆၀)ပေ× အမြင့်(၃၀)ပေရှိ RC(၃)ထပ် အိပ်ခန်းပေါင်း(၂၀)ခန်းပါ ဟိုတယ်တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလျှောက်ထားမှုအပေါ် သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှ (၅)ရက်အတွင်း ပြန်ကြားပေးပါရန် ညွှန်ကြားလာပါသည်။

၂။ အဆိုပါလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ရည်ညွှန်းစာပါ သဘောထားမှတ်ချက် ပြန်ကြားပေးရမည့်အချက်(၃)ချက်အား အောက်ပါအတိုင်း ပြန်ကြားပါသည်-

(က) အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်မည့်ကုမ္ပဏီသည်ဟိုတယ်လုပ်ငန်းလိုင်စင်လျှောက်ထားမှုအပေါ် ကရင်ပြည်နယ်အစိုးရအဖွဲ့၏(၁၄-၃-၂၀၁၉)ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေး အမှတ်စဉ်(၁၀/၂၀၁၉) ဆုံးဖြတ်ချက်အပိုဒ်(၁)အရ ယာယီဟိုတယ်လုပ်ငန်းလိုင်စင်ထုတ်ပေးထားပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်မည့်ကုမ္ပဏီအား ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံခရီးသွားလုပ်ငန်းဥပဒေပါပြဋ္ဌာန်းချက်များ၊ နည်း'ဥပဒေများ၊စည်းမျဉ်းစည်းကမ်းများကို လိုက်နာဆောင်ရွက်ရန်ဝန်ခံကတိပြုလက်မှတ်များရယူထားပါသည်။

(ဂ) အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအားဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနအနေဖြင့် 'ကန့်ကွက်ရန်မရှိပါကြောင်းပြန်ကြားပါသည်။

24/5/19

(အေးမောင်လှိုင်)
ဒုတိယညွှန်ကြားရေးမှူး

မိတ္တူကို

- ပြည်နယ်ဝန်ကြီး၊စီမံကိန်း၊ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာန၊ဘားအံမြို့။
- ညွှန်ကြားရေးမှူး၊ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၊ဘားအံမြို့။
- ရုံးလက်ခံ

နောက်ဆက်တွဲ (ဂ)

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးရုံး
ကရင်ပြည်နယ် ၊ ဘားအံမြို့
စာအမှတ်၊ ပဝဒ/ကရ-(EIA)/၂၀၁၈-၁၉
ရက်စွဲ၊ ၂၀၁၉ ခုနှစ် ၊ မေလ ၃၀ ရက်

သို့

ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ကရင်ပြည်နယ်၊ ဘားအံမြို့

KnMIC-075
31.5.19

အကြောင်းအရာ။ **Aung Paing Moe Myae Co., Ltd. မှ အဆင့်မြင့်ဟိုတယ် တည်ဆောက်ခြင်းနှင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အကြောင်းကြားလာခြင်းနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ ကရင်ပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၃.၅.၂၀၁၉) ရက်စွဲပါ စာအမှတ်၊ ၂၂/ ၅၃/ ၂၂/ (၀၀၉၈/ ၂၀၁၉)

၁။ Aung Paing Moe Myae Co., Ltd. မှ ကရင်ပြည်နယ်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ အမှတ်(၃)ရပ်ကွက်၊ မြို့ပတ်လမ်း၊ ဦးပိုင်အမှတ် (၃၅/၂)၊ မြို့မတောကွင်း၊ အမှတ်(၄၆၈/ ၄၆၉)၊ စုစုပေါင်းမြေဧရိယာ (၁.၅၁) ဧကတွင် အလျား(၄၂)ပေ၊ အနံ(၆၀)ပေ၊ အမြင့် (၃၀)ပေရှိ RC (၃)ထပ်၊ အိပ်ခန်းပေါင်း (၂၀) ခန်းပါ အဆင့်မြင့်ဟိုတယ် တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အတည်ပြုလျှောက်လွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည်-

(က) စီးပွားဖြစ်စတင်ဆောင်ရွက်မည့်ကာလမှာ ၂၀၁၉ ခုနှစ်၊နိုဝင်ဘာလဖြစ်ကြောင်း၊

(ခ) အဆောက်အဦမှာ RC(၃)ထပ်ဖြစ်ပြီး အိပ်ခန်းပေါင်း(၂၀) ပါရှိပါကြောင်း၊

(ဂ) လုပ်ငန်းမှ နှစ်စဉ်အမြတ်ငွေ၏ ၂% အား လူမှုဘဝသာယာဝပြောရေးတာဝန်ယူမှု (Corporate Social Responsibility-CSR) ရံပုံငွေအဖြစ် ထားရှိသုံးစွဲသွားမည်ဖြစ်ကြောင်း၊

(ဃ) မီးဘေးလုံခြုံရေးနှင့် စပ်လျဉ်း၍ မီးဘေးဆိုင်ရာ ကြိုတင်ကာကွယ်ရေး လုပ်ဆောင်ချက်များကို ကြိုတင်ဆောင်ရွက်ထားရှိပြီး မီးသတ်ဦးစီးဌာန၏ လမ်းညွှန်မှုကို အစဉ်ခံယူ၍ လမ်းညွှန်ချက်များအတိုင်း ဂရုပြုလိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) အမျိုးသားယဉ်ကျေးမှုကိုထိန်းသိမ်းခြင်းနှင့် စပ်လျဉ်း၍ မြန်မာတို့၏ အမျိုးသားယဉ်ကျေးမှု ထိန်းသိမ်းသွားနိုင်ရေးအတွက် သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းအသီးသီးလမ်းညွှန်ချက်များ၊ ညွှန်ကြားချက်များအား သိရှိလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) ဟိုတယ်လုပ်ငန်းလည်ပတ်ချိန်၌ ဟိုတယ်အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုး၊ မိလ္လာရေဆိုးများအား စနစ်တကျ စွန့်ပစ်ခြင်းမပြုဘဲ တိုက်ရိုက်စွန့်ပစ်ပါက ရေထုညစ်ညမ်းနိုင်ခြင်း၊

(ခ) ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများဖြစ်သည့် စားသောက်ခန်း၊ ဘားခန်း၊ မီးဖိုဆောင်မှ ထွက်ရှိလာမည့် အစားအသောက် အညစ်အကြေးများ၊ ပတ်ဝန်းကျင်တွင် ဆွေးမြေ့ရန်အချိန်ကြာမြင့်သည့် ပလတ်စတစ်နှင့် ကြွပ်ကြွပ်အိတ်ကဲ့သို့ အမှိုက်များကို စနစ်တကျ မစွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါ သည်။

၄။ Aung Paing Moe Myae Co., Ltd. မှ အဆင့်မြင့်ဟိုတယ်တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးဆိုင်ရာ ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်

လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက် နှစ်စဉ် အမြတ် ငွေ၏ (၂%)ကို ရန်ပုံငွေအဖြစ် အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းအတွက်သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန် ။

၅။ သို့ဖြစ်ပါ၍ အထက်ဖော်ပြပါအချက်များအား တိကျစွာ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်နယ်တာဝန်ခံ
(ကြည်သာလှိုင်၊ လက်ထောက်ညွှန်ကြားရေးမှူး)

**မိတ္တူကို**

ဝန်ကြီး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး၊ သစ်တော၊ သတ္တုနှင့် လမ်းပန်းဆက်သွယ်ရေး ဝန်ကြီးဌာန၊ ကရင်ပြည်နယ်
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (ဃ)

ပြည် နယ် စည် ပင် သာ ယာ ရေး အ ဖွဲ့
က ရင် ပြည် နယ် - ဘား အံ မြို့
စာအမှတ်၊ ၁၂၅၀ / ၄-၁၁ / ကရစ(၀၁၀)
ရက်စွဲ ၊၂၀၁၉ခုနှစ်၊မေလ ၂၇ ရက်

ဥက္ကဋ္ဌ
ရင်းနှီးမြှုပ်နှံမှုကော်မတီ
ကရင်ပြည်နယ်၊ ဘားအံမြို့

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ်သဘောထားပြန်ကြားပေးပါရန်ကိစ္စ**

ရည်ညွှန်းချက်။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၂၃-၅-၂၀၁၉ ရက်စွဲပါစာအမှတ်၊ ၂၂/၅၃/၂၂ (၀၁၀၀/၂၀၁၉)

(၂၃-၅-၂၀၁၉)ရက်နေ့ (၁၄း၀၀)နာရီအချိန်တွင် စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စည်ပင်သာယာရေးဝန်ကြီးဦးဆောင်ပြီး အစိုးရအဖွဲ့ရုံးခန်းတွင် ကော်မရှင်အစည်းအဝေးပြုလုပ်ကျင်းပခဲ့ပြီး အောင်ပိုင်မိုးမြေကုမ္ပဏီလီမိတက်မှ ဟိုတယ်တည်ဆောက်လုပ်ကိုင်ခြင်းနှင့်ပတ်သက်၍ စည်ပင်သာယာရေးအဖွဲ့သို့ လုပ်ထုံးလုပ်နည်းနှင့်အညီ တင်ပြခွင့်ပြုချက်များရယူဆောင်ရွက်ပြီးဖြစ်ပါသဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထား မှတ်ချက်ပြန်ကြားအပ်ပါသည်။

ညွှန်ကြားရေးမှူး
(စိုးမြင့်၊ ကရစ-၀၀၀၁)

မိတ္တူကို

ဝန်ကြီး၊ စီမံကိန်း။ ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာန၊ ဘားအံမြို့
ရုံးလက်ခံ
မျှောစာတွဲ

**Aung Paing Moe Myae Co., Ltd. မှ အမှတ် (၄၆၈/၄၆၉)၊ မြို့မတောကွင်း၊ ဦးပိုင်အမှတ် (၃၅/၂)၊ မြို့ပတ်လမ်း၊ အမှတ် (၃) ရပ်ကွက်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ ကရင်ပြည်နယ်ရှိ မြေဧရိယာ (၁.၅၁) ဧကရှိ မြေပေါ်တွင် အလျား (၄၂) ပေ၊ အနံ (၆၀) ပေ၊ အမြင့် (၃၀) ပေရှိ RC (၃) ထပ်၊ အိပ်ခန်းပေါင်း (၂၀) ခန်းပါ ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်းနှင့် စပ်လျဉ်းသည့်အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက် (Aung Paing Moe Myae Co., Ltd.) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - အောင်ပိုင်မိုးမြေ ကုမ္ပဏီ လီမိတက် (Aung Paing Moe Myae Co., Ltd.) |
| | ရင်းနှီးမြှုပ်နှံမှုပုံစံ | - မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - အခန်း (၂၀) ခန်းပါ ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်း |
| ၄။ | လုပ်ငန်းတည်နေရာ | - အမှတ် (၄၆၈/၄၆၉)၊ မြို့မတောကွင်း၊ ဦးပိုင်အမှတ် (၃၅/၂)၊ မြို့ပတ်လမ်း၊ အမှတ် (၃) ရပ်ကွက်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ ကရင်ပြည်နယ်။ |
| | မြေအကျယ်အဝန်း | - ၁.၅၁ ဧက |
| | မြေပိုင်ရှင် | - ဦးသိန်းဦး |
| | အဆောက်အဦအကျယ်အဝန်း | - အလျား (၄၂) ပေ၊ အနံ (၆၀) ပေ၊ အမြင့် (၃၀) ပေရှိ RC (၃) ထပ်၊ အိပ်ခန်းပေါင်း (၂၀) ခန်းပါ |
| ၅။ | စုစုပေါင်းမတည်ရင်းနှီးငွေ | - ကျပ် ၁,၄၀၀ သန်း |
| | - ငွေသားပမာဏ | - ကျပ် ၈၁,၈၀၇,၀၀၀ |
| | - ဟိုတယ်သုံးပစ္စည်းတန်ဖိုး (ပြည်တွင်းဝယ်) | - ကျပ် ၈၅,၉၉၃,၀၀၀ |
| | - အဆောက်အဦတန်ဖိုး (ပြည်တွင်း) | - ကျပ် ၈၀၀,၀၀၀,၀၀၀ |
| | - စက်ပစ္စည်းတန်ဖိုး (ပြည်တွင်းဝယ်) | - ကျပ် ၉၂,၀၀၀,၀၀၀ |
| | - မြေတန်ဖိုး | - ကျပ် ၃၄၀,၂၀၀,၀၀၀ |
| ၆။ | မြေအမျိုးအစား | - ဂရမ်မြေ |
| ၇။ | တည်ဆောက်ရေးကာလ | - ၆ လ |
| ၈။ | စီးပွားဖြစ်စတင်ဆောင်ရွက်မည့်နှစ် | - ၂၀၁၉ ခုနှစ်၊ နိုဝင်ဘာလ။ |

| | | |
|---|---|---|
| ၉။ | ဝန်ထမ်းအင်အား(ပထမနှစ်)<br>ပြည်တွင်း | - ၃၃ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်၍ ပြည်ပဝန်ထမ်း ခန့်ထားခြင်း မရှိပါ။ |
| ၁၀။ | ဝန်ဆောင်မှု (၈) နှစ်မြောက် | (see table below) |
| ၁၁။ | ဝင်ငွေ (၈ နှစ်မြောက်) | - ကျပ် ၂၅၅,၃၅၄,၀၀၀ |
| ၁၂။ | အသားတင်အမြတ် (၈ နှစ်မြောက်) | - ကျပ် ၃၈,၁၆၇,၈၄၈ |
| ၁၃။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (၈ နှစ်မြောက်)<br>ဝင်ငွေခွန် | - ကျပ် ၁၂,၇၂၂,၆၁၆ |
| | အရင်းကြေကာလ | - ၈ နှစ် |
| ၁၄။ | ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းမှရရှိမည့် တစ်နှစ် မျှော်မှန်းဝင်ငွေ | - ကျပ် ၁၇၀.၆၂ သန်း |
| ၁၅။ | လုပ်ငန်းမှရရှိသောတစ်နှစ်စာ နိုင်ငံခြားဝင်ငွေ | - အမေရိကန်ဒေါ်လာ ၀.၁၅ သန်း |
| ၁၆။ | CSR | - ၂ % |
| ၁၇။ | **အခြားတင်ပြချက်များ** | (က) Aung Paing Moe Myae Co., Ltd. သည် ကုမ္ပဏီ မှတ်ပုံတင်အမှတ်- ၁၀၁၉၃၆၈၁၃ ဖြင့် (၂၇-၈-၂၀၁၈) ခုနှစ်တွင် ဖွဲ့စည်းထားသည့် ကုမ္ပဏီ မှတ်ပုံတင်ကဒ် (မိတ္တူ) တင်ပြထားပါသည်။ |
| ၁၈။ | | (ခ) ဒါရိုက်တာစာရင်း၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။ |
| | | (ဂ) မြေအထောက်အထားအဖြစ် မြေစာရင်းပုံစံ ၁၀၅၊ ၁၀၆ နှင့် မြေငှားစာချုပ် မိတ္တူ ပူးတွဲ တင်ပြ |

ဝန်ဆောင်မှု (၈) နှစ်မြောက် (၁၀။):

| စဉ် | အမျိုးအစား | အခန်း အရေ အတွက် | ဝန်ဆောင်ခ နှုန်း (၁ ရက်) | | ဝန်ဆောင်ခ နှုန်း (၁ နှစ်) | |
|---|---|---|---|---|---|---|
| | | | ကျပ် | US$ | ကျပ် | US$ |
| ၁ | Deluxe | ၂၀ ခန်း | ၃၀,၀၀၀ | ၃၅ | ၈၇,၆၀၀,၀၀၀ | ၁၀၂,၂၀၀ |
| ၂ | Restaurant & Coffee Shop (Hotel) | - | | | ၄,၃၈၀,၀၀၀ | ၅,၁၁၀ |
| ၃ | Loundry & Others | - | - | - | ၈၇၆,၀၀၀ | ၁,၀၂၂ |

| | | |
|---|---|---|
| | | ထားပါသည်။<br>(ဃ) ငွေကြေးအထောက်အထားအဖြစ် ဒါရိုက်တာအဖွဲ့ဝင်မှ ဦးသိန်းဦး၊ ဒေါ်မိုးမိုးဆွေ အမည်ဖြင့် (၁၅-၃-၂၀၁၉) ရက်စွဲအရ Global Treasure Bank Ltd (Mawlamyaing (2) Branch) တွင် ငွေစာရင်းအမှတ် (၀၅၇၁၁၂၀၀၀၀၇၅၀) ကျပ် ၂၃၆,၅၀၅/၁၆ ရှိကြောင်း တင်ပြထားပါသည်။<br>(c) Aung Paing Moe Myae Co., Ltd. သည် အဆောက်အဦအတွက် (Building Layout Plan)၊ Proposed Hotel Design နှင့် အဆောက်အဦ တည်နေရာပြမြေပုံ တို့ကို ပူးတွဲတင်ပြထားပါသည်။<br>(စ) ကရင်ပြည်နယ် ဒေသဆိုင်ရာ ခရီးသွားလုပ်ငန်းကော်မတီမှ ဟိုတယ်လုပ်ငန်းလိုင်စင် (ယာယီ) အား ၂၉-၃-၂၀၁၉ ရက်စွဲဖြင့် ဦးသိန်းဦး ကို ဟိုတယ်လုပ်ငန်း လုပ်ကိုင်ခွင့်ပြုထားသော ဟိုတယ် လုပ်ငန်းလိုင်စင် (ယာယီ) မိတ္တူအား ပူးတွဲတင်ပြထားပါသည်။<br>(ဆ) မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ အမျိုးသား ယဉ်ကျေးမှုကို ထိန်းသိမ်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ ၊ပတ်ဝန်းကျင် ထိန်းသိမ်းရေး လုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ တို့ကိုတင်ပြထားပါသည်။<br>(ဇ) လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု (CSR) စီမံချက်ကို လုပ်ငန်းမှ နှစ်စဉ် အမြတ်ငွေ ၏ ၂ % အား C.S.R ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲ သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ တင်ပြထားပါသည်။ |
| | **စိစစ်တင်ပြချက်** | (က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၃၆ အရ အဆိုပြုလုပ်ငန်းသည် ကော်မရှင်၏ ခွင့်ပြုမိန့်ရယူ ဆောင်ရွက်ရမည့် စာရင်းတွင် ပါဝင်ခြင်း |

| | | |
|---|---|---|
| ၁၉။ | | မရှိပါကြောင်း၊ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်ကြောင်း စိစစ်ရပါသည်။<br>(ခ) အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် ၁၃/၂၀၁၇ အရဦးစားပေး မြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍ စာရင်းတွင် ပါဝင်သည့်အတွက် အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များ ခံစားနိုင်မည် ဖြစ်သဖြင့် ကုမ္ပဏီမှ အခွန်ကင်းလွတ်ခွင့် သက်သာခွင့်များ လျှောက်ထားနိုင်ပါသည်။<br>(ဂ) ဖွံ့ဖြိုးတိုးတက်မှု ဇုန်-၁ တွင် ပါဝင်သည့် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ၇ **နှစ်** လျှောက်ထားနိုင်ပါသည်။<br>(ဃ)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၅၀ (က) အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံသူများ မိမိပိုင်မြေတွင် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ မြေငှား သက်တမ်း လုပ်ငန်းသက်တမ်း သတ်မှတ်ရန် မလိုပါ။<br>(င) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ နိုင်ငံတော်ကသာ ဆောင်ရွက်ခွင့်ရှိသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း စာရင်းတွင် ပါဝင်ခြင်း မရှိပါကြောင်း။<br>(စ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ် လ ၁၉ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် ၅၁/၂၀၁၄ အရ အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သက်သာခွင့် မပေးသော လုပ်ငန်းများ၊ **ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့် သက်သာခွင့် မပေးဘဲ အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်ပေးမည့် လုပ်ငန်း စာရင်းတွင် ပါဝင်ခြင်း မရှိပါကြောင်း။** |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်

အတည်ပြုလျှောက်ထားလွှာ

# အောင်ပိုင်မိုးမြေကုမ္ပဏီလီမိတက်

---

# ဟိုတယ်တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်း
# အတည်ပြုလျှောက်ထားလွှာ

အမှတ်(၄၆၈/၄၆၉)၊ မြို့မတောကွင်း၊

ဦးပိုင်အမှတ် (၃၅/၂)၊ မြို့ပတ်လမ်း၊ အမှတ် (၃) ရပ်ကွက်၊

ကြာအင်းဆိပ်ကြီးမြို့နယ်၊ ကရင်ပြည်နယ်၊

# Aung Paing Moe Myae Company Limited

Beltway Street, No.(3) Quarter, Kyainseikgyi Township, Kayin State,

Myanmar.

Ph: 09425270708


---

သို့

ဥက္ကဋ္ဌ
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ် လ ( ) ရက်၊

အကြောင်းအရာ ။ ။ <u>အတည်ပြုလျှောက်ထားလွှာပေးပို့ခြင်း</u>။

အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ကျွန်မတို့၏ အောင်ပိုင်မိုးမြေကုမ္ပဏီလီမိတက် (Aung Paing Moe Myae Co., Ltd.) သည်ကရင်ပြည်နယ်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ အမှတ် (၃) ရပ်ကွက်၊ မြို့ပတ်လမ်း၊ ဦးပိုင်အမှတ် (၃၅/၂)၊ အကွက်အမှတ် (၄၆၈/၄၆၉)၊ တွင်တည်ရှိသည့်မြေ (၁.၅၁) ဧက တွင်ဟိုတယ်တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်း ကိုဆောင်ရွက်မည် ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းကိုရင်းနှီးမြှုပ်နှံမှု ကျပ်သန်း (၁၄၀၀.၀၀) ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ပါသည်၊ ထိုသို့ဆောင်ရွက်ရာတွင်ငွေသားကျပ် (၈၁.၈၁) သန်း၊ စက်ပစ္စည်းကျပ် (၉၂.၀၀) သန်း၊ အဆောက်အဦ တန်ဖိုးကျပ် (၈၀၀.၀၀) သန်း၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းတန်ဖိုးကျပ် (၈၅.၉၉) သန်းနှင့်မြေတန်ဖိုး ကျပ် (၃၄၀.၂၀) သန်းကိုထည့်ဝင်ရင်းနှီးမြှုပ်နှံ သွားမည်ဖြစ်ပါသည်၊

ကျွန်တော်များကုမ္ပဏီသည် အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ရရှိပါက လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးရေးနှင့် ဆင်းရဲမှုလျှော့ချရေးကိုအထောက်အကူပြုမည်ဖြစ်ပြီးဒေသဖွံ့ဖြိုးရေးကိုများစွာအထောက်အကူဖြစ်စေမည်ဖြစ်ပါသည်၊ ကရင်ပြည်နယ်သည်သဘာဝတောတောင်များ၊လိုဏ်ဂူများ၊ မြစ်ချောင်းများဖြင့်သဘာဝခရီးသွားအခြေခံကောင်း များစွာ ရှိပြီး ပြည်နယ်အသီးသီးနှင့်လွယ်ကူစွာ သွားလာနိုင်အောင် လမ်းပမ်းဆက်သွယ်ရေးများ ကောင်းမွန်ပြီးငြိမ်းချမ်း သာယာမှုနှင့်အတူ မြန်မာနိုင်ငံ၏သဘာဝအခြေခံခရီးသွား လုပ်ငန်းများအတွက် အခြေခံကောင်းများ ရှိပြီး ဖြစ်ခြင်းကြောင့် နိုင်ငံတော်အတွက်နိုင်ငံခြားငွေရှာဖွေပေးနိုင်မည်ဖြစ်ပြီးဒေသဖွံ့ဖြိုးရေးကိုအထောက်အကူပြုနိုင်မည် ဖြစ်ပါသည်၊ )

ဒေသခံလုပ်သား (၃၃) ဦးခန့်ထိအလုပ်အကိုင်ရရှိမည်ဖြစ်ပြီးနိုင်ငံတော်အတွက် အခွန်များလည်းပေးဆောင် နိုင်မည်ဖြစ်၍ နိုင်ငံ၏စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအား တထောင့်တနေရာမှ ထောက်ကူနိုင်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်၊

လေးစားစွာဖြင့်

ဦးသိန်းဦး
မန်နေဂျင်းဒါရိုက်တာ
Aung Paing Moe Myae Co., Ltd.

# Aung Paing Moe Myae Company Limited

**Beltway Street, No.(3) Quarter, Kyainseikgyi Township, Kayin State, Myanmar.**

**Ph: 09425270708**


---

သို့

ဥက္ကဋ္ဌ

ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ် ဇွန်လ (၁၂) ရက်၊

အကြောင်းအရာ ။ ။ <u>ဟိုတယ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်အတည်ပြုလျှောက်ထားခြင်း</u>။

ရည်ညွှန်းချက် ။ ။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၄-၆-၂၀၁၉ ရက်စွဲပါစာအမှတ် ၂၂/၅၃/၂၂ (၁၁၁၅)/၂၀၁၉

အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့၏ အောင်ပိုင်မိုးမြေကုမ္ပဏီလီမိတက် (Aung Paing Moe Myae Co., Ltd.) သည်ကရင်ပြည်နယ်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ အမှတ် (၃) ရပ်ကွက်၊ မြို့ပတ်လမ်း၊ ဦးပိုင်အမှတ် (၃၅/၂)၊ အကွက်အမှတ် (၄၆၈/၄၆၉)၊ တွင်တည်ရှိသည့်မြေ (၁.၅၁) ဧက တွင် ဟိုတယ်တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်းကိုဆောင်ရွက်မည် ဖြစ်ပါသည်၊ ရည်ညွှန်းချက်ပါစာနှင့်စပ်လျှဉ်း၍-

- ကျွန်တော်များကုမ္ပဏီသည်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကြီးကြပ်ရေးအဖွဲ့၏ (၃/၂၀၁၉) ကြိမ်မြောက်အစည်းအဝေးမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးအတွက် EMP ရေးဆွဲတင်ပြရန်ဆုံးဖြတ်ချက်အားလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းကတိပြုတင်ပြအပ်ပါသည်၊
- အလုပ်သမားညွှန်ကြားမှုဦးစီးဌာန၏ အလုပ်သမားများခန့်ထားပြီးရက်ပေါင်း (၃၀) အတွင်းအလုပ်ရှင်အလုပ်သမားဆိုင်ရာသဘောတူစာချုပ်ချုပ်ဆိုရန်သက်ဆိုင်ရာLabour ရုံးနှင့်ဆက်သွယ်ဆောင်ရွက်မည်ဖြစ်ကြောင်းကတိပြု ပါသည်၊

လေးစားစွာဖြင့်

ဦးသိန်းဦး

မန်နေဂျင်းဒါရိုက်တာ

Aung Paing Moe Myae Co., Ltd.

# Aung Paing Moe Myae Company Limited

Beltway Street, No.(3) Quarter, Kyainseikgyi Township, Kayin State, Myanmar.

Ph: 09425270708


---

သို့

ဥက္ကဋ္ဌ

ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ရက်စွဲ ။ ။ ၂၀၁၉ ခုနှစ် ဇွန်လ (၁၂) ရက်၊

အကြောင်းအရာ ။ ။ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်အတည်ပြုလျှောက်ထားခြင်း။

ရည်ညွှန်းချက် ။ ။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏၄-၆-၂၀၁၉ ရက်စွဲပါစာအမှတ် ၂၂/၅၃/၂၂ (၀၁၁၄)/၂၀၁၉

အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့၏အောင်ပိုင်မိုးမြေကုမ္ပဏီလီမိတက် (Aung Paing Moe Myae Co., Ltd.) သည်ကရင်ပြည်နယ်၊ ကြာအင်းဆိပ်ကြီးမြို့နယ်၊ အမှတ် (၃) ရပ်ကွက်၊ မြို့ပတ်လမ်း၊ ဦးပိုင်အမှတ် (၃၅/၂)၊ အကွက်အမှတ် (၄၆၈/၄၆၉)၊ တွင်တည်ရှိသည့်မြေ (၁.၅၁) ဧက တွင် ဟိုတယ်တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်းကိုဆောင်ရွက်မည် ဖြစ်ပါသည်၊ ရည်ညွှန်းချက်ပါစာနှင့်စပ်လျှဉ်း၍ကရင်ပြည်နယ်ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းအောက်ပါအတိုင်းကတိပြုပါသည် -

- အဆိုပြုလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင် လူမှုရေးနှင့် ကျန်းမာရေးဆိုင်ရာထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့်လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှုအတွက် နှစ်စဉ်အမြတ်ငွေ၏ (၂%) ကို ရန်ပုံငွေအဖြစ်အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ကတိပြုပါသည်၊
- အဆိုပြုလုပ်ငန်းကြောင့်ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက်လုပ်ငန်းဆောင်ရွက်မှုအစီအစဉ်၊ စွန့်ပစ်ပစ္စည်းများစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့် လေ့လာမည့်အစီအစဉ်၊ (Environmental Management Plan-EMP)ကိုပတ်ဝန်းကျင်ထိခိုက်မှုဆန်း စစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်ကတိပြုပါသည်၊

# Aung Paing Moe Myae Company Limited

Beltway Street, No.(3) Quarter, Kyainseikgyi Township, Kayin State, Myanmar.

Ph: 09425270708


- ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များ နှင့် အညီ လိုက်နာဆောင်ရွက်ရန်ကတိပြုပါသည်၊
- ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့်လုပ်ငန်းဆောင်ရွက်ရမည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုဆောင်ရွက်ရန်ကတိပြုပါသည်၊

လေးစားစွာဖြင့်

ဦးသိန်းဦး

မန်နေဂျင်းဒါရိုက်တာ

Aung Paing Moe Myae Co., Ltd.

# Aung Paing Moe Myae Company Limited

Beltway Street, No.(3) Quarter, Kyainseikgyi Township, Kayin State, Myanmar.

Ph: 09425270708


---

## ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများဆောင်ရွက်မည်ဖြစ်ကြောင်းကတိပြုခြင်း

- ဟိုတယ်မြေဧရိယာနှင့်ဝန်းကျင်အတွင်းအရိပ်ရအပင်များစိုက်ပျိုးခြင်းနှင့်ရေစီးရေလာကောင်းမွန်စေရေးရေမြောင်းများဖေါက်လုပ်သွားမည်ဖြစ်ပါသည်၊
- ဟိုတယ်မှထွက်ရှိသည့်အသုံးပြုပြီးရေဆိုးများအားစနစ်တကျရေစုကန်၊ အနည်ထိုင်ကန်များဖြင့်စနစ်တကျထိန်းသိမ်းပြီးခေတ်မီစက်ကိရိယာများဖြင့်ကမ္ဘာ့ကျန်းမာရေးအဖွဲ့၏စံချိန်စံညွှန်းများနှင့်အညီရေဆိုးများသန့်စင်ပြီးစိုက်ပျိုးရေးတွင်သုံးစွဲနိုင်သည့်အဆင့်ရရှိအောင်သန့်စင်ပြီးစိုက်ပျိုးရေးလုပ်ငန်းများတွင်သုံးစွဲ သွားမည်ဖြစ်ပါသည်၊
- အခြားသောလူမှုထွက်ရှိသည့်အညစ်အကြေးများအားမြို့၏စည်ပင်သာယာရေးဌာန၏လုပ်ထုံးလုပ်နည်းလမ်းညွှန်ချက်များအတိုင်းအတိအကျလိုက်နာဆောင်ရွက်စွန့်ပစ်သွားမည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်၊
- တည်ဆောက်ရေးလုပ်ငန်းများနှင့်လုပ်ငန်းလည်ပတ်ခြင်းကြောင့်ပတ်ဝန်းကျင်မဖြစ်ပေါ်စေရေးအတွက်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးပညာရှင်များနှင့်တိုင်ပင်ခြင်း၊ အကြံဉာဏ်များရယူ၍လိုက်နာဆောင်ရွက်သွားပါမည်၊
- ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများအတွက် C.S.R ရံပုံငွေ၏၂၀% အားအသုံးပြုဆောင်ရွက်သွားရာတွင် ကျွန်တော်များကုမ္ပဏီသည် အဆိုပြုဟိုတယ်လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ဥပဒေ၊ နည်းဥဒေလုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီလိုက်နာကျင့်သုံး ဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်၊

လေးစားစွာဖြင့်

ဦးသိန်းဦး
မန်နေဂျင်းဒါရိုက်တာ
Aung Paing Moe Myae Co., Ltd.

# Aung Paing Moe Myae Company Limited

Beltway Street, No.(3) Quarter, Kyainseikgyi Township, Kayin State,

Myanmar.

Ph: 09425270708


---

## C.S.R နှင့်စပ်လျဉ်း၍ကတိပြုတင်ပြခြင်း

အဆိုပြုလုပ်ငန်းမှနှစ်စဉ်အမြတ်ငွေ၏ ၂% အား C.S.R ရံပုံငွေအဖြစ်ထားရှိသုံးစွဲသွားမည်ဖြစ်ပြီးအဆိုပါရံပုံငွေ၏ ၃၀% အားဝန်ထမ်းများ၏ပညာရေးအတွက်အဓိကထားသုံးစွဲသွားမည်ဖြစ်ပြီး၊ ဒေသတွင်းရံပုံငွေအားနည်းသည့်ကျောင်းများ နှင့် ကျောင်းသားများအတွက်သုံးစွဲသွားမည်ဖြစ်ပါသည်၊ ထို့ပြင် ရံပုံငွေ၏ ၃၀% အားဝန်ထမ်းများနှင့်ဝန်ထမ်းမိသားစုများ နှင့် ဒေသခံပြည်သူများ၊ မိခင်နှင့်ကလေးများ၏ကျန်းမာရေးလုပ်ငန်းများအတွက်အသုံးပြုသွားမည်ဖြစ်ပါသည်၊ ၂၀% အားမိမိတို့ ဒေသအတွင်းလမ်းတံတားဖွံ့ဖြိုးရေးအတွက်သုံးစွဲသွားမည်ဖြစ်ပါသည်၊ ကျန် ၂၀% အားလူမှုရေးနှင့်ပတ်ဝန်းကျင်ထိန်းသိမ်း ရေးလုပ်ငန်းများအတွက်နိုင်ငံတော်နှင့်ဒေသအာဏာပိုင်များ၏လမ်းညွှန်ချက်များအားလိုက်နာဆောင်ရွက်သွားမည်ဖြစ် ပါကြောင်းတင်ပြအပ်ပါသည်၊

လေးစားစွာဖြင့်

ဦးသိန်းဦး<br>
မန်နေဂျင်းဒါရိုက်တာ<br>
Aung Paing Moe Myae Co., Ltd.

# Aung Paing Moe Myae Company Limited

**Beltway Street, No.(3) Quarter, Kyainseikgyi Township, Kayin State,**

**Myanmar.**

**Ph: 09425270708**

---

**မီးဘေးကာကွယ်ရေးစီမံချက်**

- အဆောက်အဦများ၏အခန်းတိုင်းတွင် Smoking Detector များနှင့် Speaker များတပ်ဆင်ထားမည်ဖြစ်ပြီး မီးလောင်မှုဖြစ်ပွားပါက အချက်ပေးခေါင်းလောင်းများမှသတိပေးခြင်းနှင့် အသံဖြင့်ညွှန်ကြား၍ဧည့်သည်များအား အခန်း အတွင်းမှ ဘေးအန္တရာယ်ကင်းရှင်းစွာထွက်ခွာနိုင်အောင်စီမံတည်ဆောက်ထားပါသည်၊
- Smoking Detector များမှမီးလောင်ကြောင်း ထောက်လှမ်းသိရှိသည်နှင့်အချက်ပေးခြင်း၊ ဘေးကင်းလုံခြုံရေး ညွှန်ကြားခြင်းများအပြင်မီးအားအလိုအလျောက်ငြိမ်းသတ်နိုင်စေရန်အထပ်မြင့်အဆောက်အဦးများအတွင်းSprinkler များတပ်ဆင်ထားမည်ဖြစ်ပါသည်၊
- အဆောက်အဦလျှောက်လမ်းများအတွင်း Fire Hose Reel များအပြည့်အစုံတပ်ဆင်ထားရှိမည်ဖြစ်ပါသည်၊
- လျှပ်စစ်ဓါတ်အားအသုံးပြုမှုအားလုံးကို Breaker များဖြင့်ဆက်သွယ်ထားပြီးလျှပ်စစ်ဓါတ်အားအမှားဖြစ် ဖြစ်ပွားပါကလျပ်စစ်အန္တရယ် မဖြစ်ပွားစေရန်အတွက်လျှပ်စစ်ဓါတ်အားဖြတ်တောက်ပေးမည်ဖြစ်ပါသည်၊လျှပ်စစ်သွယ်တန်း သုံးစွဲမှုများအားလျှပ်စစ်ကျွမ်းကျင်ပညာရှင်ခန့်ထားပြီးအစဉ်စစ်ဆေးသွားမည်ဖြစ်ပါသည်၊
- မြေပေါ်အောက်ရေလှောင်ကန် နှင့် Over Head Tank များမှလည်းမီးဘေးအန္တရယ်ဖြစ်ပွားပါကအသုံး ပြုသွားနိုင်ရန် စီမံဆောင်ရွက်သွားမည်ဖြစ်ပါသည်၊
- လောင်စာဆီသိုလှောင်မှုကိုဂရုပြုဆောင်ရွက်သွားမည်ဖြစ်ပြီးဝန်ထမ်းများအားမီးငြိမ်းသတ်ခြင်းသင်တန်းများပေးသွား မည်ဖြစ်ပါသည်၊
- အစဉ်အမြဲမီးဘေးမဖြစ်ပွားစေရန်ဂရုပြုဆောင်ရွက်သွားမည်ဖြစ်ပြီးဟိုတယ်အဆောက်အဦတိုင်းတွင်မီးသတ်ဆေးဗူး များအလုံအလောက် တပ်ဆင်သွားမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ လမ်းညွှန်မှုကိုအစဉ်ခံယူ၍လမ်းညွှန်ချက်များ အတိုင်းဂရုပြုလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းလေးစားစွာတင်ပြအပ်ပါသည်၊

လေးစားစွာဖြင့်

ဦးသိန်းဦး

မန်နေဂျင်းဒါရိုက်တာ

Aung Paing Moe Myae Co., Ltd.

